ကန့်သတ်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Daehan Motors Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပိုင်း ဝန်ဆောင်မှု ပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Shwe Daehan Motors Co., Ltd.<br>- Mr.Baek Youngchul (Korean) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Kolao Holdings(HM) Singapore Pte. Ltd. (Singapore) အစုရှယ်ယာ (၉၈၂,၂၉၉)စု<br>- Mr. Jang Woojin (Korean) အစုရှယ်ယာ (၁)စု |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပိုင်းဝန်ဆောင်မှုပေးခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၆၉၊၇၀၊ မြေတိုင်းရပ်ကွက်အမှတ်-၅၀၊ သာခုကန်စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - Chain Family Asset Co.,Ltd. |
| | မြေအကျယ်အဝန်း | - စုစုပေါင်း၆.၃၇၁ဧက (၂၅၇၈၂.၅၂၂ စတုရန်းမီတာ) |
| | အဆောက်အဦအရေအတွက် | - တစ်ထပ်အဆောက်အဦ ၁လုံး (Factory)<br>- တစ်ထပ်အဆောက်အဦ ၁လုံး (Building)<br>- တစ်ထပ်အဆောက်အဦအသစ် ၁လုံး (Factory)<br>- တစ်ထပ်အဆောက်အဦအသစ် ၂လုံး (Canteen)<br>**စုစုပေါင်း ၅ လုံး** |
| | မြေနှင့်အဆောက်အဦငှားရမ်းခ | - US$၂၉၇,၀၀၀(တစ်နှစ်တစ်စတုရန်းမီတာလျှင်US$၁၁.၅၂ နှုန်း) |
| | မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ကနဦးနှစ်၅၀ (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်<br>သက်တမ်း | - ကနဦးနှစ်၅၀ (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၉.၈၂ သန်း |

ကန့်သတ်

| | | | |
|---|---|---|---|
| | ထည့်ဝင်သည့်အမျိုးအစား | **(US$/သန်း)** | |
| | စက်နှင့်စက်ကိရိယာပစ္စည်း | ၃.၇၁ | |
| | ပရိဘောဂ | ၀.၇၀ | |
| | မော်တော်ယာဉ် | ၁.၈၁ | |
| | စက်အရံပစ္စည်း | ၀.၁၀ | |
| | ကားအရောင်းပြခန်းကုန်ကျစရိတ် | ၀.၄၁ | |
| | အဆောက်အဦကုန်ကျစရိတ် | ၃.၀၉ | |
| | **စုစုပေါင်း** | **၉.၈၂** | |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % | |
| ၈။ | မော်တော်ယာဉ်ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း(ပထမနှစ်) | **ရောင်းချမှုအရေအတွက် (စီးရေ)** | **ရောင်းဈေးနှုန်း (ကျပ်/စီးရေ)** |
| | Accent | ၆၀၀ | ၂၅,၂၂၀,၀၀၀ |
| | Tuscson | ၃၀၀ | ၄၉,၅၃၀,၀၀၀ |
| | Creta | - | - |
| | Grand i10 | ၁၀၀ | ၂၃,၂၇၀,၀၀၀ |
| | Santa Fe | - | - |
| | Sonata | - | - |
| | Elantra | - | - |
| | Azera | - | - |
| | H100 | ၁၀၀ | ၂၆,၉၁၀,၀၀၀ |
| | Prime | ၁၀၀ | ၃၁,၈၁၈,၈၀၀ |
| | Megatron | ၃၀၀ | ၃၄,၇၁၉,၁၀၀ |
| | Tera-190 | ၁၀၀ | ၂၀,၇၄၆,၇၀၀ |

| မော်တော်ဆိုင်ကယ်ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း(ဒုတိယနှစ်) | **ရောင်းချမှုအရေအတွက် (စီးရေ)** | **ရောင်းဈေးနှုန်း (ကျပ်/စီးရေ)** |
|---|---|---|
| Romeo | ၁၀,၀၀၀ | ၁,၂၃၂,၄၀၀ |
| Juliet | ၆,၀၀၀ | ၁,၂၁၅,၅၀၀ |
| K-pop | ၉,၀၀၀ | ၁,၁၇၅,၂၀၀ |

*ပထမနှစ်တွင် မော်တော်ယာဉ် အမျိုးအစား(၁၂) အနက်မှ (၇)မျိုးကို ထုတ်လုပ် တပ်ဆင်မည်ဖြစ်ပြီး ဒုတိယနှစ်မှစ၍ မော်တော်ယာဉ် အမျိုးအစား(၁၂)မျိုးအပြင် မော်တော်ဆိုင်ကယ် (၃)မျိုးကိုလည်း တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပါသည်။

၉။ အခြားတင်ပြချက်

| | **ပြည်တွင်း** | **ပြည်ပ** |
|---|---|---|
| **အရေအတွက်** | ၁၀၀၃ ဦး | ၇ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၁,၅၀၀,၀၀၀ | US$ ၈,၀၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၈၀,၀၀၀ | US$ ၄,၅၀၀ |

- ၁ US$ = ၁၃၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။
- ကျပ်ငွေအထောက်အထားအဖြစ် Mr. Jang Woojin အမည်ဖြင့် Kanbawza Bank, Kyauktadar Branch တွင် ၂၀-၂-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၆,၅၆၂,၉၃၀ ရှိကြောင်းတင်ပြထားပါသည်။
- နိုင်ငံခြားငွေ အထောက်အထားအဖြစ် Kolao Holdings(HM) Singapore Pte. Ltd. အမည်ဖြင့် DBS Bank Ltd. တွင် ၁၂-၃-၂၀၁၈ ရက်စွဲဖြင့် US$ ၁,၀၁၉,၄၂၂.၉၂ ရှိကြောင်း တင်ပြထားပါသည်။
- ထုတ်လုပ်မည့် မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ၏ နမူနာပုံများနှင့် Processing Diagram များအား တင်ပြထားပါသည်။

၁၀။ စိစစ်တင်ပြချက်

- မော်တော်ယာဉ် ထုတ်လုပ်ခြင်း လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2910 တွင် အကျုံးဝင်ပါသည်။

| | | |
|---|---|---|
| | | - မော်တော်ဆိုင်ကယ်ထုတ်လုပ်ခြင်း လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 3091 တွင် အကျုံးဝင်ပါသည်။<br>- Shwe Daehan Motors Co., Ltd. မှ မော်တော်ယာဉ် အမျိုးအစား ၁၂ မျိုးနှင့် မော်တော်ဆိုင်ကယ် အမျိုးအစား ၃ မျိုးတို့အား ထုတ်လုပ်ရောင်းချမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မော်တော်ယာဉ်များအား Hyundai Motor Brand နှင့် Daehan Brand များဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး Hyundai Motor Company(HMC) နှင့် Kolao Holdings Co., Ltd. တို့မှ ထုတ်လုပ်ခွင့်ပြုထားသည့် Brand Authorization Letter များအားတင်ပြထားပါသည်။<br>- မော်တော်ဆိုင်ကယ်များအား KR Brand ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး KR Motor Co., Ltd. မှ ထုတ်လုပ်ခွင့်ပြုထားသည့် Brand Authorization Letter အားတင်ပြထားပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုကာလ (၁၀) နှစ်အတွင်းတွင် Battery, Floor Mat, Hose parts များထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းထုတ်လုပ်မှု ရာခိုင်နှုန်း ၅% ပါဝင်မည်ဖြစ်ပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုကာလ နှစ် (၅၀) အတွင်းတွင် Cockpit/trim, Transmission, Controller များအား ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းထုတ်လုပ်မှု ရာခိုင်နှုန်း ၄၀% ပါဝင်မည်ဖြစ်ကြောင်း Localization Plan တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်(၁၂)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD-2သတ်မှတ်ချက်ပါပစ္စည်းအုပ်စု(၁၀)မျိုးဖြင့်တင်သွင်းထုတ်လုပ်သွားမည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/ ခ-၀၁၂/၂၀၁၈( ၀၆၂ )
ရက်စွဲ၊၂၀၁၈ ခုနှစ် မေလ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Daehan Motors Co.,Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပိုင်းဝန်ဆောင်မှုပေးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသည့် Kolao Holdings(HM) Singapore PTE Ltd. မှ အစုရှယ်ယာ (၉၈၂,၂၉၉)စု နှင့် ကိုရီးယားနိုင်ငံသား Mr. Jang Woojin မှ အစုရှယ်ယာ (၁)စု တို့ဖြင့်မြန်မာနိုင်ငံတွင်Shwe Daehan Motors Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၆၉၊၇၀၊ မြေတိုင်း ရပ်ကွက်အမှတ်-၅၀၊ သာစုကန် စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၆.၃၇၁ဧကေ (၂၅၇၈၂.၅၂၂ စတုရန်း မီတာ)အားငှားရမ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီး နောက်ပိုင်း ဝန်ဆောင်မှုပေးခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့်အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Chain Family Asset Co.,Ltd.နှင့် Shwe Daehan Motors Company Limitedတို့ချုပ်ထားသည့်ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)၊မြေဆိုင်ရာ အထောက်အထားများ၊ ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)၊ ထုတ်လုပ်မည့် မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ် အရေအတွက်၊ နမူနာဓာတ်ပုံများအားတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပါသည်။စုစုပေါင်း မြေ ၆.၃၇၁ ဧက (၂၅၇၈၂.၅၂၂ စတုရန်းမီတာ)အား ငှားရမ်း၍ နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခမှာ US$၂၉၇,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁၁.၅၂ နှုန်းဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၉.၈၂ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | (US$/သန်း) |
|---|---|
| စက်နှင့်စက်ကိရိယာပစ္စည်း | ၃.၇၁ |
| ပရိဘောဂ | ၀.၇၀ |
| မော်တော်ယာဉ် | ၁.၈၁ |
| စက်အရံပစ္စည်း | ၀.၁၀ |
| ကားအရောင်းပြခန်းကုန်ကျစရိတ် | ၀.၄၁ |
| အဆောက်အဦကုန်ကျစရိတ် | ၃.၀၉ |
| **စုစုပေါင်း** | **၉.၈၂** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ၀န်ထမ်း ၁၀၀၃ ဦးနှင့် ပြည်ပ ၀န်ထမ်း ၇ ဦးခန့် ထားမည်ဖြစ်ပါသည်။ ပြည်တွင်း၀န်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပြီး ပြည်ပ၀န်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၄,၅၀၀ နှင့် အမြင့်ဆုံးလစာ US$ ၈,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထုတ်လုပ်သည့် မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့်ရောင်းဈေးနှုန်းများအား နောက်ဆက်တွဲ ဖြင့် ဖော်ပြထားပါသည်။

၈။ ပထမနှစ်တွင် မော်တော်ယာဉ် အမျိုးအစား(၁၂) အနက်မှ (၇)မျိုးကို တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီး ဒုတိယနှစ်မှစ၍ မော်တော်ယာဉ် အမျိုးအစား(၁၂)မျိုးအပြင် မော်တော်ဆိုင်ကယ်(၃)မျိုး ကိုလည်းတပ်ဆင်ထုတ်လုပ်မည်ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြား ထားပါသည်။

၁၁။ ကျပ်ငွေအထောက်အထားအဖြစ် Mr. Jang Woojin အမည်ဖြင့် Kanbawza Bank, Kyauktadar Branch တွင် ၂၀-၂-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၆,၅၆၂,၉၃၀ ရှိကြောင်းနှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် Kolao Holdings(HM) Singapore Pte. Ltd. အမည်ဖြင့် DBS Bank Ltd. တွင် ၁၂-၃-၂၀၁၈ ရက်စွဲဖြင့် US$ ၁,၀၁၉,၄၂၂.၉၂ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) ထုတ်လုပ်မည့် မော်တော်ယာဉ်(၁၂)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD-2 သတ်မှတ်ချက်ပါပစ္စည်းအုပ်စု(၁၀)မျိုးဖြင့်တင်သွင်းထုတ်လုပ်သွားမည်ဖြစ်ပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆(ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည် ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဖြစ်ပါသည်။အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုကာလ (၁၀) နှစ်အတွင်းတွင် Battery, Floor Mat, Hose partsများ ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းထုတ်လုပ်မှုရာခိုင်နှုန်း ၅% ပါဝင်မည်ဖြစ်ကာ ရင်းနှီးမြှုပ်နှံမှုကာလ နှစ် (၅၀) အတွင်းတွင် Cockpit/trim, Transmission, Controller များအားထုတ်လုပ်မည်ဖြစ်ပြီးပြည်တွင်းထုတ်လုပ်မှုရာခိုင်နှုန်း ၄၀% အထိပါဝင်မည်ဖြစ်ကြောင်း Localization Plan တင်ပြထားပါသည်။

(င) မော်တော်ယာဉ်များအား Hyundai Motor Brand နှင့် Daehan Brand များဖြင့်လည်းကောင်း၊ မော်တော်ဆိုင်ကယ်များအား KR Brand ဖြင့် လည်းကောင်း ထုတ်လုပ်မည်ဖြစ်ပြီး Hyundai Motor Company(HMC)၊ Kolao Holdings Co., Ltd.နှင့် KR Motor Co., Ltd. တို့မှ ထုတ်လုပ်ခွင့်ပြုထားသည့် Brand Authorization Letter များ အားတင်ပြထားပါသည်။

(စ) ထုတ်လုပ်မည့် မော်တော်ယာဉ်နှင့်မော်တော်ဆိုင်ကယ် Brand အမျိုးအစားတစ်ခုချင်းစီအတွက် သက်ဆိုင်ရာ မိခင်ကုမ္ပဏီမှ Inspection Certificate များအား ထုတ်လုပ်မှုဆောင်ရွက်ပြီး (၃)လအတွင်း ထုတ်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်Shwe Daehan Motors Company Limited မှ မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပိုင်းဝန်ဆောင်မှုပေးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ

| မော်တော်ယာဉ် ထုတ်လုပ်မှု | ရောင်းချမှုအရေအတွက် (စီးရေ) | ရောင်းဈေးနှုန်း (ကျပ်/စီးရေ) |
|---|---|---|
| Accent | ၆၀၀ | ၂၅,၂၂၀,၀၀၀ |
| Tuscson | ၃၀၀ | ၄၉,၅၃၀,၀၀၀ |
| Creta | - | - |
| Grand i10 | ၁၀၀ | ၂၃,၂၇၀,၀၀၀ |
| Santa Fe | - | - |
| Sonata | - | - |
| Elantra | - | - |
| Azera | - | - |
| H100 | ၁၀၀ | ၂၆,၉၁၀,၀၀၀ |
| Prime | ၁၀၀ | ၃၁,၈၁၈,၈၀၀ |
| Megatron | ၃၀၀ | ၃၄,၇၁၉,၁၀၀ |
| Tera-190 | ၁၀၀ | ၂၀,၇၄၆,၇၀၀ |
| | | |
| မော်တော်ဆိုင်ကယ် ထုတ်လုပ်မှု | ရောင်းချမှုအရေအတွက် (စီးရေ) | ရောင်းဈေးနှုန်း (ကျပ်/စီးရေ) |
| Romeo | ၁၀,၀၀၀ | ၁,၂၃၂,၄၀၀ |
| Juliet | ၆,၀၀၀ | ၁,၂၁၅,၅၀၀ |
| K-pop | ၉,၀၀၀ | ၁,၁၇၅,၂၀၀ |

၁၆၂



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃ - စမ ( ၂ ) ၂၀၁၈ ( ၄၅၄ )

ရက် စွဲ ၊ ၂၀၁၈ ခုနှစ် ၊ မေလ ၁၆ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၄.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက - ၃ / ခ - ၀၁၂ / ၂၀၁၈ ( ၀၃၅ )

၁။ Shwe Daehan Motors Co., Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာခုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်( ၅၀ )၊ မြေကွက်အမှတ်( ၆၉ ၊ ၇၀ )တွင် မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ရောင်းချပြီးနောက်ပိုင်း ဝန်ဆောင်မှုပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ဌာန၏ သဘောထားမှတ်ချက်အား ၈.၅.၂၀၁၈ ရက်နေ့ နောက်ဆုံးထား၍ ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုမ္ပဏီမှ လိုအပ်သောကုန်ကြမ်းပစ္စည်းများနှင့် စက်များအား ပြည်ပမှတင်သွင်းလျက် အဆင့်မြင့်နည်းပညာများ အသုံးပြုပြီး Hyundai Motor အမှတ်တံဆိပ် ( ၉ )မျိုးနှင့် Daehan အမှတ်တံဆိပ်( ၃ )မျိုး၊ စုစုပေါင်း မော်တော်ယာဉ်( ၁၂ )မျိုးနှင့် KR အမှတ်တံဆိပ် မော်တော်ဆိုင်ကယ်( ၃ )မျိုး ထုတ်လုပ်မည် ဖြစ်ပါသည်။

(ခ) မော်တော်ယာဉ်( ၁၂ )မျိုးအား အစိတ်အပိုင်းအုပ်စု( ၁၀ )မျိုးဖြင့်လည်းကောင်း၊ မော်တော်ဆိုင်ကယ်( ၃ )မျိုးအား အစိတ်အပိုင်းအုပ်စု( ၉ )မျိုးဖြင့်လည်းကောင်း အုပ်စုအလိုက် တင်သွင်းထုတ်လုပ်မည် ဖြစ်ပါသည်.

(ဂ) မော်တော်ယာဉ်ထုတ်လုပ်မှုအား Sub Assembly Line ၊ Assembly Line ၊ Test Line များဖြင့်လည်းကောင်း၊ မော်တော်ဆိုင်ကယ် ထုတ်လုပ်မှုအား Sub Engine Assembly ၊ Engine Assembly ၊ Engine Test ၊ Sub

Assembly ၊ Main Assembly ၊ Testing နှင့် Painting အတွက် Processing Diagram များဖြင့် ထုတ်လုပ်မှုလုပ်ငန်းစဉ်များ ဆောင်ရွက်မည် ဖြစ်ပါသည်။

(ဃ) Building Facility Layout Plan တွင် ကိုရီးယားနိုင်ငံနှင့် လာအိုနိုင်ငံ၏ Senior Technical Expert များ၏ Hyundai & Deahan Facility Drawing များအရ ထုတ်လုပ်မှုလုပ်ငန်းများ ဆောင်ရွက်နိုင်ကြောင်း သုံးသပ်ရပါသည်။

၃။ သို့ပါ၍ Shwe Daehan Motors Co., Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်( ၅၀ )၊ မြေကွက်အမှတ်( ၆၉ ၊ ၇၀ )တွင် မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ရောင်းချပြီးနောက်ပိုင်း ဝန်ဆောင်မှုပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ မော်တော်ယာဉ်(၁၂)မျိုးနှင့် မော်တော်ဆိုင်ကယ်( ၃ ) မျိုးအား ထုတ်လုပ်မှုနည်းစဉ်များ၊ သတ်မှတ်အစိတ်အပိုင်းအုပ်စုများ၊ တင်ပြပါ Specification များနှင့်အညီ တင်သွင်းထုတ်လုပ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ဝန်ကြီးရုံး၊ စီမံကိန်းနှင့်စာရင်းအင်းဌာနခွဲ

အမှတ်( ၁ )အကြီးစားစက်မှုလုပ်ငန်း

မျှောစာတွဲ

ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/မလ(ကညန)/၂၀၁၈( ၁၂၈၅)

ရက် စွဲ၊ ၂ ၀ ၁ ၈ ခုနှစ်၊ မေလ ၁၀ ရက်

NPT-1721 16.5.18 သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-462 18/5/18

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ်၊ ဧပြီလ (၂၅)ရက်စွဲပါစာအမှတ်၊ မရက-၃/ခ-၀၁၂/၂၀၁၈ (၀၃၄)

၁။ စင်ကာပူနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော Kolao Holdings (HM) Singapore PTE Ltd. မှ မြန်မာနိုင်ငံတွင် Shwe Daehan Motors Company Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာစုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၅၀၊ မြေကွက်အမှတ် (၆၉၊ ၇၀)ရှိ မြေဧရိယာ(ဧ.၃၇၁)ဧက(၂၅၇၈၂.၅၂၂ စတုရန်းမီတာ)အား ငှားရမ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ်နှင့် မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ရောင်းချပြီးနောက်ပိုင်း ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ပြည်တွင်း/ပြည်ပ ကုမ္ပဏီများအနေဖြင့် CKD, SKD စနစ်အသုံးပြု၍ မော်တော်ယာဉ်များ ထုတ်လုပ်ရာတွင် အောက်ဖော်ပြပါသတ်မှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်-

(က) ASEAN Motor Vehicle Requirement Standard.

(ခ) မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ်ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရန် ယာဉ်ကြောစနစ်နှင့် လိုက်လျောညီထွေဖြစ်စေမည့် လက်ဝဲဘက်စတီယာရင်မောင်းစနစ် (Left Hand Drive) ယာဉ်များသာ ထုတ်လုပ်ရန်။

(ဂ) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည် ၊ အမျိုးအစားအတွက် ပုံစံအတည်ပြု သတ်မှတ်ချက်ရရှိပြီး ဖြစ်ရမည်။ ထုတ်လုပ်မည့်မော်တော်ယာဉ်နှင့် ပတ်သက်သည့် Specification များ ပြည့်စုံစွာဖော်ပြရန်။

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ် စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့် ယာဉ်ကြံ့ခိုင်မှုစစ်ဆေးပြီး အောင်မြင်သည့်ယာဉ်များသာ ဈေးကွက်အတွင်းသို့ဖြန့်ဖြူးရောင်းချရန်။

၃။ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များ ကနဦးမှတ်ပုံတင်လုပ်ငန်းဆောင်ရွက်ပါက အောက်ပါအထောက်အထားများ ရယူစိစစ်ပါသည်-

(က) Latter of Authorization Form Origin Co.,Ltd.

(ခ) QC would be Signed by Origin Co., Ltd.

(ဂ) Both Our Inspectors (Engineers)

(ဃ) Vehicle Identification (VIN plate)

၄။ မြန်မာနိုင်ငံ၏ မော်တော်ယာဉ်ထုတ်လုပ်မှုကဏ္ဍသည် ပြည်တွင်း၌ မော်တော်ယာဉ်တစ်စီးကို ပြည့်စုံစွာထုတ်လုပ်သည့် အဆင့်မဟုတ်ဘဲ ပြည်ပတွင်ထုတ်လုပ်ပြီးဖြစ်သော မော်တော်ယာဉ် အစိတ်အပိုင်းများအား မှာယူတင်သွင်း၍ ပြန်လည်တပ်ဆင်သည့် SKD စနစ်သာဖြစ်သေးခြင်း၊ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းများအား ပုဂ္ဂလိကကဏ္ဍမှ စတင်ဆောင်ရွက်နေသည်မှာ မကြာမြင့်သေးခြင်းတို့ကြောင့် Self Certification စနစ်ပုံစံမျိုးအား သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့် မော်တော်ယာဉ်များ ထုတ်လုပ်ခွင့်ပြုခြင်းတွင် ထုတ်လုပ်ပြီးသည့် ယာဉ်အသစ်များကို Safety Standard နှင့် ကိုက်ညီမှုရှိ/ မရှိ စိစစ်ရန်အတွက် ထုတ်လုပ်ခွင့်ပြုသည့် စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်လိုအပ်မည်ဖြစ်ပြီး ဦးဆောင်မှုပြုလုပ်နေသော စက်မှုဝန်ကြီးဌာန၏ အကြံပြုချက်များကို အခြေခံစဉ်းစားလုပ်ဆောင်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂၀ ၊ ၅ ၊ ၁၀ ၁၈

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(သူရအောင်မျိုးမြင့်-ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှောစာတွဲ



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၂၇/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.406
4/5/18

အကြောင်းအရာ။ **Shwe Daehan Motors Co., Ltd. မှ မော်တော်ယာဉ်နှင့်မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ရောင်းချပြီးနောက်ပိုင်းဝန်ဆောင်မှုပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၄-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၁၂/ ၂၀၁၈(၀၃၃)

၁။ စင်္ကာပူနိုင်ငံတွင်ဖွဲ့စည်းတည်ထောင်ထားသည့် Kolao Holdings (HM) Singapore PTE Ltd. မှအစုရှယ်ယာ (၉၈၂,၂၉၉) စုနှင့် ကိုရီးယားနိုင်ငံသား Mr. Jang Woojin မှ အစုရှယ်ယာ (၁) စုတို့ဖြင့် မြန်မာနိုင်ငံတွင် Shwe Daehan Motors Company Limited တည်ထောင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၆၉၊ ၇၀၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၀၊ သာဓုကန်စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၆.၃၇၁ ဧက (၂၅,၇၈၂.၅၂၂ စတုရန်းမီတာ) ကိုငှားရမ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယဉ်နှင့် မော်တော်ဆိုင်ကယ်များထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ရောင်းချပြီးနောက်ပိုင်း ဝန်ဆောင်မှုပေးခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀)နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၂၅,၇၈၂.၅၂၂ စတုရန်းမီတာ) ပေါ်ရှိ တည်ဆောက်ပြီး Factory (၁) လုံး၊ Building (၁) လုံးနှင့်ထပ်မံတည်ဆောက်မည့် MC factory building တစ်ထပ် (၁) လုံး၊ Canteen တစ်ထပ် (၂) လုံး၊ စုစုပေါင်းအဆောက်အဦ (၅) လုံး အသုံးပြုကာလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် Hyundai Motor Company တံဆိပ် (၉) မျိုး၊ Daehan တံဆိပ်(၃) မျိုးအား ပထမနှစ်တွင်အစီးရေ (၁၆၀၀) မှနှစ် (၃၀) အတွင်းအစီးရေ (၂၀,၅၈၀) စီးခန့်နှင့် KR တံဆိပ်မော်တော်ဆိုင်ကယ်အား ပထမနှစ်တွင်အစီးရေ (၂၅၀၀၀) မှနှစ် (၃၀) အတွင်း အစီးရေ (၁၂၀,၀၀၀) ခန့်ကို ကနဦးကာလတွင် SKD စနစ်နှင့် နောက်ပိုင်းကာလများတွင် CRD စနစ်သို့ ပြောင်းလဲကာ ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရ ရှိလာမည့် အသားတင် အမြတ်ငွေ၏ (၁.၅%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Shwe Daehan Motors Co., Ltd. မှ မော်တော်ယာဉ်နှင့်မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ရောင်းချပြီးနောက်ပိုင်းဝန်ဆောင်မှုပေးခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) ပြုပြင်ထိန်းသိမ်းရေး အလုပ်ရုံများမှထွက်ရှိမည့် စက်ဆီ၊ ချောဆီများနှင့်ထွက်ရှိမည့် စွန့်ပစ်အရည်၊ အစိုင်အခဲ၊ မိလ္လာရေသိုးများကို စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဖြစ်စေနိုင်ခြင်း၊

(ဃ) မော်တော်ယာဉ်၏ ဘော်ဒီပိုင်း၊ အင်ဂျင်ပိုင်း၊ ဂီယာပိုင်း၊ ဖရိန်ပိုင်းနှင့်အခြားအစိတ် အပိုင်းအားလုံးအား ပြည်ပမှမှာယူတင်သွင်းပြီး စက်ရုံ၌တပ်ဆင်ခြင်း လုပ်ငန်းကိုသာ ဆောင်ရွက်မည်ဖြစ်ကာအဆိုပါလုပ်ငန်းကြောင့် အသံဆူညံမှုနှင့်လုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Shwe Daehan Motors Co., Ltd. မှ မော်တော်ယာဉ်နှင့်မော်တော်ဆိုင်ကယ်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ရောင်းချပြီးနောက်ပိုင်းဝန်ဆောင်မှုပေးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများ ကိုအောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏၁.၅%ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ